GREENFEED VIETNAM COMPANY LIMITED မှ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းမှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း (Manufacturing, marketing and distribution of animal feeds and aqua feeds)

| စဉ် | ဆောင်ရွက်သည့် အကြောင်း အရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၁၀-၂-၂၀၂၀ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၁၉-၂-၂၀၂၀ | ၂၈-၂-၂၀၂၀ | |
| | - စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၂၁-၂-၂၀၂၀ | ၆-၃-၂၀၂၀ | |
| | - ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ ရုံး | ၂၁-၂-၂၀၂၀ | ၂၂-၅-၂၀၂၀ | (၂၂-၅-၂၀၂၀) ရက်နေ့တွင် သဘောထား ရရှိပါသည်။ |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၇/၂၀၂၀ (၁၇-၂-၂၀၂၀) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၂၀-၂-၂၀၂၀ | | |
| ၆ | အဆိုပြုချက်အပေါ် ပြင်ဆင် တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၂၅-၂-၂၀၂၀<br>၁၁-၃-၂၀၂၀ | ၂၇-၄-၂၀၂၀ | |
| ၇ | အဆိုပြုချက် ပြန်လည်ပေးပို့ခြင်း | ၇-၄-၂၀၂၀ | | အဆိုပြုချက်သည် ရက်ပေါင်း ၆၀ ကျော်လွန်နေခြင်း၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်အရ ကုမ္ပဏီမှ |

| | | | | |
|---|---|---|---|---|
| | | | | လိုအပ်ချက်များ တင်ပြလာမှုမရှိခြင်းနှင့် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ သဘောထား ပြန်ကြားလာခြင်း မရှိသေးပါသောကြောင့် အဆိုပြုချက်အား ပြန်လည် ပေးပို့ခဲ့ပါသည်။ |
| | စုစုပေါင်းကြာမြင့်ရက် | ၆၀ ရက် | | |
| ၈ | ကုမ္ပဏီမှ ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ပြန်ကြားလာပါသဖြင့် အဆိုပြုချက်အား ပြန်လည် တင်ပြလာခြင်း | - | ၂၆-၅-၂၀၂၀ | |
| ၉ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၈/၂၀၂၀ (၁၈-၆-၂၀၂၀) | | |
| | စုစုပေါင်းကြာမြင့်ရက် | (၂၀) ရက် | | |

## အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

| | |
|---|---|
| ကုမ္ပဏီအမည် | GREENFEED VIETNAM COMPANY LIMITED |
| လုပ်ငန်းအမျိုးအစား | တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း (Manufacturing, marketing and distribution of animal feeds and aqua feeds) |
| PATအကြိမ်/နေ့စွဲ | ၇/၂၀၂၀ (၁၇-၂-၂၀၂၀) |

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ၏ HS Code များအား ပြန်လည်စိစစ်၍ ပြင်ဆင် တင်ပြရန် နှင့် စက်ပစ္စည်း ဈေးနှုန်းများ တစ်ခုချင်းအလိုက် ကိန်းပြည့် ဖြင့် ပြင်ဆင် တင်ပြပေးရန်။ | ✔ | |
| ၂ | မြေငှားစာချုပ်အပိုဒ် ၅.၉ ပါ မြေငှားရမ်းခပေးချေမှု ဖော်ပြချက်အား ပြင်ဆင် တင်ပြရန်။ | ✔ | |
| ၃ | ဦးဝင်းဆွေ အမည်ဖြင့် ဂရန် အထောက်အထား တင်ပြရန်။ | ✔ | |
| ၄ | လျှပ်စစ်ဓါတ်အားလိုင်းရယူမည့် Single Line Diagram/ One Line Diagram ဖြင့် တင်ပြပေးရန်။ | ✔ | |
| ၅ | ပြည်ပမှ တင်သွင်းမည့် တိရစ္ဆာန်အစာနှင့် အားဆေးများကို ခွဲခြား တင်ပြပေးရန်။ | ✔ | |
| ၆ | ပြည်တွင်းမှ ဝယ်ယူမည့် ကုန်ကြမ်းစာရင်း တင်ပြပေးရန်။ | ✔ | |
| ၇ | GREENFEED တိရစ္ဆာန်အစာ အိတ်ခွံများတွင် Labelling အား စားသုံးသူရေးရာ ဦးစီးဌာနမှ ထုတ်ပြန်ထားသော လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။ | ✔ | |

| | | | |
|---|---|---|---|
| ၈ | နှစ်အလိုက် ဆောင်ရွက်မည့် လုပ်ငန်းစဉ် အဆင့်ဆင့်ပါဝင်သည့် လုပ်ငန်းစဉ် အကျဉ်းချုပ်အား တင်ပြရန်။ | ✔ | |
| ၉ | ပုံစံ-၂ တွင် Equity နှင့် Loan မတည်ငွေရင်းထည့်ဝင်မှုပုံစံနှင့် Equity –Debt Ratio အား တင်ပြပေးရန်။ | ✔ | |
| ၁၀ | ပုံစံ(၂)၊ အပိုဒ်(၁၂-က)တွင် ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် တည်နေရာအား ပြည့်စုံစွာ ဖော်ပြပေးရန်။ | ✔ | |
| ၁၁ | လုပ်ငန်း ဆောင်ရွက်မည့် ပတ်ဝန်းကျင်ရှိ စက်ရုံများ ပါဝင်သည့် Layout Plan တင်ပြပေးရန်။ | ✔ | |
| ၁၂ | လုပ်သားများ၏ လူမှုဖူလုံရေး၊ သက်သာချောင်ချိရေး၊ မီးဘေးကြိုတင် ကာကွယ်ရေး အစီအစဉ်နှင့် တည်နေရာပြမြေပုံများ တင်ပြပေးရန်။ | ✔ | |
| ၁၃ | နည်းဥပဒေ(၃၈) အပိုဒ် (ဂ)တွင် ငွေသားဖြင့် ယူဆောင်မှုပမာဏသာ ဖော်ပြရန်။ | ✔ | |
| ၁၄ | ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) အတွက် Scoping Report အား ကော်မရှင် အစည်းအဝေးသို့ မတင်ပြမီ ရေးဆွဲတင်ပြရန်။ | - | |

အကြောင်းအရာ။ ရခိုင်ပြည်နယ်ပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် GREENFEED VIETNAM COMPANY LIMITED မှ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - GREENFEED VIETNAM COMPANY LIMITED<br>- Mr. Tran Ngoc Chi (Vietnamese) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရခိုင်ပြည်နယ်ပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>GreenFeed Vietnam Corporation (Vietnam)<br>၁၀၀% |
| | လုပ်ငန်းအမျိုးအစား | တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း (Manufacturing, marketing and distribution of animal feeds and aqua feeds) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- (၁၀ ၊ ၁၁)၊ အထူးဇုန် (၂)၊ ဥဿာ (၉)ရပ်ကွက်၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်<br>ရရှိသူ | - ဦးဝင်းဆွေ |
| | မြေအကျယ်အဝန်း | - ဦးပိုင်အမှတ်(၁၀၊ ၁၁) ရှိ မြေ (၁၀)ဧက<br>စုစုပေါင်း မြေ (၁၀)ဧက |
| ၄။ | မြေငှားရမ်းခ | - တစ်နှစ်လျှင် မြေ(၁)ဧက ငှားရမ်းခနှုန်း US$ ၂,၃၀၀<br>နှစ် ၅၀ လျှင် မြေ (၁၀)ဧက ငှားရမ်းခနှုန်း ၁,၁၅၀,၀၀၀ |
| | မြေငှားရမ်းအသုံးပြုခွင့်<br>သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လို<br>သည့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် |
| | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် နှင့် ၆ လ |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၂၈.၀၀၀ သန်း (ချေးငွေ US$ ၁၁.၀၀ သန်း အပါအဝင်) |

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်မှု (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| - ငွေသား | ၇.၇၆၀ | ၇.၄၆၀ | ၁၅.၂၀၀ |
| - စက်ပစ္စည်းနှင့် စက်ကိရိယာများ | ၉.၂၄၀ | ၃.၅၃၀ | ၁၂.၈၀၀ |
| **စုစုပေါင်း** | **၁၇.၀၀၀** | **၁၁.၀၀၀** | **၂၈.၀၀၀** |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၁၀၆ ဦး |
| | ပြည်တွင်း | - ၁၀၁ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ US$ ၂၅၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂,၇၅၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၅ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၉၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၅,၈၃၃ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| | ထုတ်လုပ်မှု (ပထမနှစ်မြောက်) | |

| စဉ် | အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| (က) | Swine feeds | ၁၅,၀၀၀ | ၄၆၀ |
| (ခ) | Broiler feeds | ၂၉,၄၀၀ | ၄၁၆ |
| (ဂ) | Semi-Broiler Feeds | ၁၂,၆၀၀ | ၃၅၈ |
| (ဃ) | Layer Feeds | ၁၂,၀၀၀ | ၃၇၈ |
| (င) | Duck Feeds | ၃,၀၀၀ | ၃၇၉ |
| (စ) | Quail Feeds | ၃,၀၀၀ | ၄၀၈ |
| (ဆ) | Aqua Feeds Group | ၄၅,၀၀၀ | ၅၀၇ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁၉,၂၀၀,၀၀၀ KW |
| ၁၀။ | အခြားတင်ပြချက် | - မြေ အထောက်အထားအဖြစ် ပဲခူးတိုင်းဒေသကြီး၊ စက်ရုံ/ အလုပ်ရုံတည်ထောင်ရေး လုပ်ငန်းကြီးကြပ်မှုကော်မတီမှ ဦးဝင်းဆွေ အမည်ဖြင့် စက်ရုံ/အလုပ်ရုံတည်ထောင် အသုံးပြုနိုင်ရန်အတွက် စက်မှုမြေအဖြစ် မြေနေရာချထားပေးသည့် အထောက်အထား၊ မြေစာရင်းပုံစံ- ၁၀၅၊ ၁၀၆ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုတင်ပြလာသည့် ဦးပိုင်အမှတ် (၁၀ ၊၁၁)ရှိ မြေ (၁၀)ကေအား Win & Win Company Limited မှ လုပ်ငန်းမြေနေရာလျှော့ချပြင်ဆင်ခွင့် တင်ပြလာခြင်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃-၅-၂၀၁၉)ရက်စွဲဖြင့် လျှော့ချခွင့်ပြုထားသည့် အထောက်အထား တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးဝင်းဆွေ နှင့် **GREENFEED VIETNAM COMPANY LIMITED** တို့အကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)ကို တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် ပြည်တွင်းရှိ BIDV ဘဏ်မှ ချေးငွေ US$ ၁၁.၀၀၀ သန်းကို မြန်မာကျပ် (သို့) US$ ဖြင့် ချေးယူမည်ဖြစ်ပြီး ပြန်လည်ပေးဆပ်မည့် အစီအစဉ် နှင့် Loan Agreement (မူကြမ်း) တင်ပြထားပါသည်။<br>- ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ US$ ၁၂,၇၇၉,၆၃၂.၀၀ နှင့် ကုန်ကြမ်းစာရင်း တင်ပြထားပါသည်။<br>- GreenFeed Vietnam Corporation ၏ (၃၁-၁၂-၂၀၁၈)နေ့ရှိ Separate Cash Flow Statement တွင် ငွေသား VND ၂၈၉,၆၃၄,၁၉၇,၀၆၁ ရှိကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအစဉ် ၊ CSR Plan **နှင့် Layout Plan** များ တို့ကို တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် အစာနမူနာပုံများ၊ ထုတ်လုပ်မည့် ကုန်ပစ္စည်း၏ အမှတ်တံဆိပ်၊ ကုန်အမှတ် တံဆိပ်အား မှတ်ပုံတင်ထားသည့် အထောက်အထားများ တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 1080 တွင် အကျုံးဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၆၆/၂၀၂၀( ၁၂၆ )
ရက်စွဲ ၊ ၂၀၂၀ ပြည့်နှစ် မေလ [illegible] ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် GREENFEED VIETNAM COMPANY LIMITED မှ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ Vietnam ရှိ GreenFeed Vietnam Corporation မှ ၁၀၀% အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် GREENFEED VIETNAM COMPANY LIMITED ဖြင့် ဦးပိုင်အမှတ်- (၁၀ ၊ ၁၁)၊ အထူးဇုန် (၂)၊ ဥဿာ (၉)ရပ်ကွက်၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ (၁၀)ကေအား ငှားရမ်း၍ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ် ဖြန့်ဖြူးခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးဝင်းဆွေ နှင့် GREENFEED VIETNAM COMPANY LIMITED တို့အကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) နှင့် ပဲခူးတိုင်းဒေသကြီး၊ စက်ရုံ/ အလုပ်ရုံတည်ထောင်ရေး လုပ်ငန်းကြီးကြပ်မှုကော်မတီမှ ဦးဝင်းဆွေ အမည်ဖြင့် စက်ရုံ/အလုပ်ရုံတည်ထောင် အသုံးပြုနိုင်ရန်အတွက် စက်မှုမြေအဖြစ် မြေနေရာချထားပေးသည့် အထောက်အထား၊ မြေစာရင်းပုံစံ- ၁၀၅၊ ၁၀၆ အထောက်အထား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် ဖြစ်ပါသည်။ တစ်နှစ်လျှင် မြေ (၁)ကေအတွက် မြေငှားရမ်းခနှုန်း US$ ၂,၃၀၀ ဖြစ်ပြီး နှစ် ၅၀ အတွက် မြေ (၁၀)ကေလျှင် မြေငှားရမ်းခနှုန်း US$ ၁,၁၅၀,၀၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ ၁ နှစ် နှင့် ၆ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ US$ ၂၈.၀၀၁ သန်း (ချေးငွေ US$ ၁၁.၀၀၀ သန်း အပါအဝင်) ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုပုံစံ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ထည့်ဝင်မှု (US$ သန်း) | ချေးငွေ (US$ သန်း) | စုစုပေါင်း (US$ သန်း) |
|---|---|---|---|
| ငွေသား | ၇.၇၆၀ | ၇.၄၆၀ | ၁၅.၂၀၀ |
| စက်ပစ္စည်းနှင့် စက်ကိရိယာများ | ၉.၂၄၀ | ၃.၅၃၀ | ၁၂.၈၀၀ |
| စုစုပေါင်း | ၁၇.၀၀၀ | ၁၁.၀၀၀ | ၂၈.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၁၀၁)ဦး နှင့် ပြည်ပဝန်ထမ်း (၅)ဦး စုစုပေါင်း ဝန်ထမ်းဦးရေ(၁၀၆)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂၅၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၂,၇၅၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၉၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၅,၈၃၃ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ တိရိစ္ဆာန်အစားအစာများကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (MT) | ရောင်းချမည့် ဈေးနှုန်း (US$/MT) |
|---|---|---|---|
| (က) | Swine feeds | ၁၅,၀၀၀ | ၄၆၀ |
| (ခ) | Broiler feeds | ၂၉,၄၀၀ | ၄၁၆ |
| (ဂ) | Semi-Broiler Feeds | ၁၂,၆၀၀ | ၃၅၈ |
| (ဃ) | Layer Feeds | ၁၂,၀၀၀ | ၃၇၈ |
| (င) | Duck Feeds | ၃,၀၀၀ | ၃၇၉ |
| (စ) | Quail Feeds | ၃,၀၀၀ | ၄၀၈ |
| (ဆ) | Aqua Feeds Group | ၄၅,၀၀၀ | ၅၀၇ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့မှ** GREENFEED VIETNAM COMPANY LIMITED ၏ အဆိုပြုမြေနေရာသည် ပဲခူးတိုင်းဒေသကြီး စက်ရုံအလုပ်ရုံများ တည်ထောင်ရေး လုပ်ငန်းကြီးကြပ်မှုကော်မတီမှ စက်ရုံ/အလုပ်ရုံ တည်ထောင် အသုံးပြုနိုင်ရန် အတွက် စက်မှုမြေနေရာခွင့်ပြုချထားပေးသည့် မြေနေရာဖြစ်ပါသဖြင့် အဆိုပြု လုပ်ငန်းအား သက်ဆိုင်ရာဌာနများ၏ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီ

ဆောင်ရွက်မည်ဆိုပါက တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(က)**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ** GREENFEED VIETNAM COMPANY LIMITED မှ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ (၁၀)ဧကအားငှားရမ်း၍ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် မွေးမြူရေးဇုန်များ ထပ်မံပေါ်ပေါက်လာနိုင်ခြင်း၊ မွေးမြူရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာစေခြင်း၊ ဒေသခံပြည်သူများ အလုပ်အကိုင် အခွင့်အလမ်းများ ရရှိလာခြင်း ပဲခူးတိုင်းဒေသကြီးအတွင်း တိရစ္ဆာန် အစာများ အသုံးပြုရန် အစာလိုအပ်ချက်ကို ပိုမိုအထောက်အကူပြုလာနိုင်ခြင်းတို့ကြောင့် တိရစ္ဆာန်စာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းကို ဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ခ)**

(ဃ) ရင်းနှီးမြုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ** ရင်းနှီးမြုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(ဂ)**

၉။ GreenFeed Vietnam Corporation ၏ (၃၁-၁၂-၂၀၁၈)နေ့ရှိ Separate Cash Flow Statement တွင် ငွေသား VND ၂၈၉,၆၃၄,၀၉၇,၀၆၁ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ကုမ္ပဏီသည် ပြည်တွင်းရှိ BIDV ဘဏ်မှ ချေးငွေ US$ ၁၁.၀၀၀ သန်း ကို မြန်မာကျပ် (သို့) US$ ဖြင့် ချေးယူမည်ဖြစ်ပြီး ပြန်လည် ပေးဆပ်မည့် အစီအစဉ် နှင့် Loan Agreement (မူကြမ်း) တင်ပြထားပါသည်။

၁၁။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအစဉ် နှင့် CSR Plan ၊ **Layout Plan** ၊ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မည့် အစာနမူနာပုံများ၊ ထုတ်လုပ်မည့် ကုန်ပစ္စည်း၏ အမှတ်တံဆိပ်၊ ကုန်အမှတ် တံဆိပ်အား မှတ်ပုံတင်ထားသည့် အထောက်အထားများ **တင်ပြထားပါသည်**။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၇/၂၀၂၀ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

စိစစ်တင်ပြချက်

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ US$ ၁၂,၇၇၉,၆၃၂.၀၀ နှင့် ကုန်ကြမ်းစာရင်း တင်ပြထားပါသည်။

(ခ) GreenFeed Vietnam Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာ မြို့နယ်တွင် တိရစ္ဆာန်အစားအစာ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၀ ရက်စွဲဖြင့် အတည်ပြုမိန့်အမှတ်၊ ၀၃၅/၂၀၁၇ ဖြင့် ဆောင်ရွက်လျက်ရှိပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-1080 တွင် အကျုံးဝင်ပါသည်။

(ဃ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၄။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် GREENFEED VIETNAM COMPANY LIMITED မှ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်း** ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

(signature)
ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့
ပဲခူးမြို့

စာအမှတ်၊ ၄ / ၈ - ၂ / ၉ / ဦး ၆ ( ၁၅၁၆၈ )
ရက် စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ မေလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁.၂.၂၀၂၀) ရက်စွဲပါ စာအမှတ်၊ မရက - ၂ / ခ - ဝ၆၆ / ၂၀၂၀(၀၅၅)

၁။ Vietnam ရှိ Greenfeed Vietnam Corporation မှ ၁၀၀% အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ပဲခူးတိုင်းဒေသကြီး၊ ပဲခူးခရိုင်၊ ပဲခူးမြို့၊ ဥသျှစ(၉) ရပ်ကွက်၊ အထူးဇုန်(၂)၊ ဦးပိုင်အမှတ်(၁၀၊ ၁၁)ရှိ မြေ(၁၀)ဧကအား ငှားရမ်း၍ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် Greenfeed Vietnam Company Limited မှ အဆိုပြုတင်ပြလာမှုအပေါ် သဘောထား မှတ်ချက်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ သို့ဖြစ်ပါ၍ Greenfeed Vietnam Company Limited ၏ အဆိုပြုမြေနေရာသည် ပဲခူး တိုင်းဒေသကြီးစက်ရုံအလုပ်ရုံများတည်ထောင်ရေးလုပ်ငန်းကြီးကြပ်မှုကော်မတီမှ စက်ရုံ/ အလုပ်ရုံ တည်ထောင်အသုံးပြုနိုင်ရန်အတွက် စက်မှုမြေနေရာခွင့်ပြုချထားပေးသည့် မြေနေရာဖြစ်ပါသဖြင့် အဆိုပြုလုပ်ငန်းအား သက်ဆိုင်ရာဌာနများ၏ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့် အညီ ဆောင်ရွက်မည်ဆိုပါက တိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက်ပြန်ကြားအပ်ပါသည်။

22.5.2020

ဝန်ကြီးချုပ် (ကိုယ်စား)
ညွှန့်ရွှေ၊ ဝန်ကြီး
စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီးဌာန

မိတ္တူကို

ညွှန်ကြားရေးမှူး၊ ပဲခူးတိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ပဲခူးမြို့
Greenfeed Vietnam Company Limited
မျှောစာတွဲ / လက်ခံစာတွဲ

ဥkay218

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၀၅၇ /၂၀၂၀)
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ မတ်လ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၂-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၆၆/၂၀၂၀(၀၅၆)

၁။ Greenfeed Vietnam Company Limited သည် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- (၁၀၊၁၁)၊ အထူးဇုန်(၂)၊ ဥဿာ(၉)၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေဧက (၁၀) ဧကအား ငှားရမ်း၍ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ခြင်းအပေါ် အဆိုပြုလုပ်ငန်းတွင် အသုံးပြုမည့် ကုန်ကြမ်းများနှင့် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီခြင်း ရှိ/မရှိ လုပ်ငန်းလည်ပတ်ရန် သင့်လျော်သည့် စက်ပစ္စည်းအမျိုးအစား ၊ အရေအတွက်နှင့် ကိုက်ညီမှု ရှိ/မရှိ၊ ထုတ်လုပ်မှုလုပ်ငန်းစဉ်နှင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သင့်/မသင့် စသည့်အချက်များအပေါ် ဝန်ကြီးဌာန အနေဖြင့် သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း အကြောင်းကြားလာပါ သည်။

၂။ အဆိုပါမြေနေရာကိစ္စနှင့်ပတ်သက်၍ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနနှင့် ငါးလုပ်ငန်းဦးစီးဌာနတို့မှ ပဲခူးတိုင်းဒေသကြီးဦးစီးမှူးများ ခေါင်းဆောင်သောအဖွဲ့များမှ ကွင်းဆင်းစစ်ဆေးချက်အရ-

(က) အဆိုပါမြေနေရာတွင် အဆောက်အဦဆောက်လုပ်ထားခြင်း မရှိသေးကြောင်း ၊ သက်ဆိုင်ရာဌာနများ၏ ခွင့်ပြုချက်ရရှိပါက ၂၀၂၀ ပြည့်နှစ်ကုန်တွင် စက်ရုံအပြီးတည်ဆောက်သွားမည်ဖြစ်ကြောင်း၊

(ခ) လုပ်ငန်းအသုံးပြုမည့် ကုန်ကြမ်းများမှာ ပြည်တွင်း ဒေသထွက် ကုန်ကြမ်း (Local raw material) ၆၀ ရာခိုင်နှုန်းနှင့် ပြည်ပတင်သွင်းကုန်ကြမ်း (Import raw material) ၄၀ ရာခိုင်နှုန်း အသုံးပြုမည်ဖြစ်ကြောင်း၊

(ဂ) ထွက်ရှိလာသော အစာများအား ပြည်တွင်း၌သာ ဖြန့်ဖြူးသွားမည်ဖြစ်ပြီး အသုံးပြုမည့် ကုန်ကြမ်းများနှင့် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်း သဘောသဘာဝနှင့် ကိုက်ညီမှုရှိပါကြောင်း၊

(ဃ) တိရစ္ဆာန်အစာနှင့် ငါးစာ စက်ရုံတည်ဆောက်ရန် စက်ပစ္စည်းများကို နယ်သာ လန်၊ ဂျာမနီ၊ ဒိန်းမတ်နိုင်ငံတို့မှ တင်သွင်းမည်ဖြစ်ပြီး စက်ရုံ၏ ကုန်ထုတ် လုပ်မှုပမာဏမှာ တစ်ရက်လျှင် တန်(၈၀၀) ဖြစ်ပြီး Animal Feed (၄၈၀) တန် နှင့် Aqua Feed (၃၂၀)တန် ဖြစ်ကြောင်း၊

(င) ထုတ်လုပ်မှုလုပ်ငန်းစဉ်နှင့်ပတ်သက်၍ (5 Line)ရှိပြီး (3 Line) မှာ ကြက်၊ ဝက်၊ ဘဲ နှင့် ငုံးစာများ ထုတ်လုပ်မည်ဖြစ်ပြီး (2 Line) မှာ ငါး၊ ပုစွန်အစာများထုတ်လုပ် သွားမည်ဖြစ်ကြောင်း၊

(စ) စက်ရုံတွင်ဝန်ထမ်းများ ခန့်အပ်ခြင်းအနေဖြင့် ဒေသခံဝန်ထမ်းများကို ခန့်သွား မည်ဖြစ်ပြီး ဝန်ထမ်း (၂၅၅) ဦး နှင့် ပညာရှင် ဝန်ထမ်း(၆) ဦး စုစုပေါင်း (၂၆၁) ဦး ခန့်ထားမည်ဖြစ်ပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Greenfeed Vietnam Company Limited မှ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေဧက (၁၀) ဧကအား ငှားရမ်း၍ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် မွေးမြူရေးဇုန်များ ထပ်မံပေါ်ပေါက်လာနိုင်ခြင်း၊ မွေးမြူရေးလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာစေခြင်း၊ ဒေသခံပြည်သူများ အလုပ်အကိုင်အခွင့်အလမ်း များရရှိလာခြင်း ပဲခူးတိုင်းဒေသကြီးအတွင်း တိရစ္ဆာန်အစာများ အသုံးပြုရန် အစာလိုအပ်ချက်ကို ပိုမိုအထောက်အကူပြုလာနိုင်ခြင်းတို့ကြောင့် တိရစ္ဆာန်စာများ ထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းကို ဥပဒေနှင့်အညီ ဆောင်ရွက်မည်ဆိုပါက စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(signature) ၆/၁၂

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
လှထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်

မိတ္တူ

- ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန
- ရုံးလက်ခံ/ မျှော

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၁၁/ MIC (OSS)/ ၀၁ (၁၄၆/၀၂၀)
ရက်စွဲ၊၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **GREENFEED VIETNAM COMPANY Limited မှ တိရစ္ဆာန်အစာများ၊ ငါးစာများ ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၂-၂၀၂၀ ရက်စွဲပါစာအမှတ်၊ မရက- ၂/ ခ- ၀၆၆/ ၂၀၂၀(၀၅၂-က)

၁။ ဗီယက်နမ်နိုင်ငံရှိ GREENFEED VIETNAM COMPANY Limited မှ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် GREENFEED VIETNAM COMPANY Limited တည်ထောင်ကာ ဦးပိုင်အမှတ်-(၁၀၁၁)၊ အထူးဇုန်(၂)၊ ဥသာ (၉)၊ ပဲခူးမြို့နယ်၊ ပဲခူးခရိုင်၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ (၁၀) ဧက (၄၀,၄၆၈.၅၆ စတုရန်းမီတာ)တွင် တိရစ္ဆာန်အစာများ၊ ငါးစာများထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ခွဲ ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ (၄၀,၄၆၈.၅၆ စတုရန်းမီတာ)တွင် ထုတ်လုပ်ရေးအဆောက်အဦ (၁) လုံး၊ သိုလှောင်ရုံ (၃) လုံး၊ ဘွိုင်လာအဆောက်အဦ (၁)လုံး၊ ပြုပြင်ထိန်းသိမ်းရေးအဆောက်အဦ (၁) လုံး၊ ရုံးအဆောက်အဦ (၂) လုံး၊ စားရိပ်သာ (၁) လုံး၊ ကားရပ်စခန်းအဆောက်အဦ (၁) လုံး၊ ကားရပ်နားရန်နေရာ၊ လုံခြုံရေးအဆောက်အဦနှင့် အခြားဆက်စပ်အဆောက်အဦများ တည်ဆောက်ကာ လုပ်ငန်းများဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် တိရစ္ဆာန်နှင့် ငါးစာများအား ပထမနှစ်တွင်တန်ချိန် (၁) သိန်းကျော်မှ (၁၀) နှစ်အတွင်းတန်ချိန် (၂) သိန်းခွဲကျော်အထိ တိုးမြှင့်ကာ ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ နှစ်စဉ်ရေ (၇၂,၀၀၀) ကုဗမီတာ အသုံးပြုကာ လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) GREENFEED VIETNAM COMPANY Limited မှ တိရစ္ဆာန်အစာများ၊ ငါးစာများထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေထု၊ မြေ ထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စနစ်တကျ သန့်စင်ခြင်းမရှိဘဲ စွန့်ပစ်ပါက မြေပေါ်နှင့် မြေအောက်ရေ ညစ်ညမ်းမှုဖြစ်စေနိုင်ခြင်း၊ မွေးမြူရေးအစာတောင့်များမှ ထွက်ရှိလာမည့် အနံ့အသက်များနှင့် တိရစ္ဆာန်အစာများ၊ ငါးစာများထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းတွင် အသုံးပြုသည့် ကာကွယ်ဆေးများနှင့် ကြီးထွားရန် အသုံးပြုသည့် ဟိုမုန်းဆေးများ၏အကြွင်းအကျန်များကြောင့် အလုပ်သမားများနှင့် ပတ်ဝန်းကျင်ရှိပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ GREENFEED VIETNAM COMPANY Limited မှ တိရစ္ဆာန်အစာများ၊ ငါးစာများထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်

အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များ ကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့ မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာသတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ် အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

(ဇ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
- ပြည်ထောင်စုဝန်ကြီးရုံး
- သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
- ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
- ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
- ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ပဲခူးတိုင်းဒေသကြီး
- ရုံးလက်ခံ